# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏
# အဆိုပြုချက်

## အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)နှင့်
## ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်တို့၏
## အကျိုးတူရာဘာစိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း

ကောင်းဟိန်း ဇမ္ဗူကုမ္ပဏီလီမိတက်

**Kaung Hein Zabu Co.,Ltd**



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂) ၂၀၁၅-၂၀၁၆ (၃၉၅၇)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **ရာဘာခြံ(၂)ခြံကို ရာဘာထုတ်လုပ်မှုလုပ်ငန်းအပေါ် ခွဲဝေခံစားခြင်းနည်းလမ်းဖြင့် ပုဂ္ဂလိကလုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

ရည် ညွှန်း ချက်။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၈.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၆၁၁/၃၂၃- သက်တမ်းတိုး ၂-၈/အဖရ(၂၀၁၅)

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ ညောင်ချောင်းရာဘာခြံအား ဒေါ်နန်းခင်မြင့်ရီ(Jade King & Queen Gems & Jewellery Co., Ltd.) နှင့်လည်းကောင်း၊ ပေါင်-ကျုံကရာဘာခြံအား ဦးဖုန်းမြင့်(Kaung Hein Zabu Co., Ltd.) နှင့်လည်းကောင်း ရာဘာထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် (၂၅+ ၅+ ၅)နှစ် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ခြင်းအပေါ် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန်** ဟု ပြည်ထောင်စုအစိုးရအဖွဲ့ရုံးမှ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။ ၎င်းစာမိတ္တူကိုပူးတွဲဖော်ပြအပ်ပါသည်။

၂။ သို့ပါ၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ ညောင်ချောင်းရာဘာခြံအား Jade King & Queen Gems & Jewellery Co., Ltd. နှင့်လည်းကောင်း၊ ပေါင်-ကျုံကရာဘာခြံအား Kaung Hein Zabu Co., Ltd. နှင့်လည်းကောင်း ရာဘာထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် (၂၅+ ၅+ ၅)နှစ် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန်နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်၊ စာချုပ်(မူကြမ်း)၊ အဆိုပြုလွှာများနှင့်တကွ အချက်အလက်အထောက်အထားများပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၁၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၃၆၁၁ /၃၂၃-သက်တမ်းတိုး ၂-၈/အဖရ(၂၀၁၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

သို့
ပြည်ထောင်စုဝန်ကြီး
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **ရာဘာခြံ(၂)ခြံအား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း နည်းလမ်းဖြင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ**

ရည် ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၀-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂၄-စမ(၂) ၂၀၁၅-၂၀၁၆ (၃၀၂၄)

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ ညောင်ချောင်းနှင့် ပေါင်-ကျုံက ရာဘာခြံ (၂)ခြံအား တင်ဒါအောင်မြင်သည့် ပုဂ္ဂလိကလုပ်ငန်းရှင်(၂)ဦးသို့ (၂၅+၅+၅)နှစ်ဖြင့် ရာဘာထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြမှုအပေါ် **"မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြရန်"** လမ်းညွှန်မှု ပြုပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
**နိုင်ငံတော်သမ္မတရုံး**
**သမ္မတဦးစီးရုံး**
**ဒုတိယသမ္မတ(၁)ဦးစီးရုံး**
**ဒုတိယသမ္မတ(၂)ဦးစီးရုံး**
**စီးပွားရေးရာကော်မတီ**
သမ္မတရုံးဝန်ကြီးဌာန(၃)
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့
ရုံးလက်ခံ/ မျှောစာတွဲ

လျှို့ဝှက်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၂၈၁)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ **သဘောတူစာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၆.၁၂.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂(၅)၁၄-၁၉၉၉/နပတ(၁၂၈၅)

၁။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)ကြီးကြပ်မှုရှိ ညောင်ချောင်းရာဘာခြံအား ဒေါ်နန်းခင်မြင့်ရီနှင့်လည်းကောင်း၊ ပေါင်-ကျုံက ရာဘာခြံအား ဦးဖုန်းမြင့်နှင့်လည်းကောင်း ရာဘာထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်နည်းဖြင့်ဆောင်ရွက်ရာတွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးမည့် သဘောတူစာချုပ်(မူကြမ်း)များအပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်၍ သုံးသပ်အကြံပြုချက်များကို ရည်ညွှန်းချက်ပါစာဖြင့် ပြန်ကြားလာပါသည်။ ၎င်းစာမိတ္တူနှင့် **မှင်နီဖြင့်ပြင်ဆင်ဖြည့်စွက်ထားသည့် စာချုပ်(မူကြမ်း)မူရင်းတို့အား** ပူးတွဲပေးပို့အပ်ပါသည်။

၂။ အဆိုပါ ပြင်ဆင်ချက်သဘောတူ စာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီပြင်ဆင်ပြုစုထားရန်နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး၏ သဘောတူခွင့်ပြုချက်ရရှိပါက ပြင်ဆင်ပြီးစာချုပ်(မူကြမ်း)များနှင့်တကွ ဝန်ကြီးရုံးသို့ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

၂၁.၁၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

**ဦးဆောင်ညွှန်ကြားရေးမှူး**
**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း**

လျှို့ဝှက်

# ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

# KAUNG HEIN ZABU CO.,LTD

Tel: 09-796964792, 09-255751452

Address: NatKyi Chaung Village (North)
Paung Township, Mon State

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၂-၂-၂၀၁၆

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုလွှာပေးပို့ တင်ပြခြင်း။**

၁။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရဖွဲ့စည်းထားသည့်ကျွန်တော်များ၏ ကောင်းဟိန်း ဇမ္ဗူ ကုမ္ပဏီလီမိတက်သည်မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ ပေါင်-ကျုံကရာဘာခြံကွင်းအမှတ် နှမ်းတစိတ် ကွင်း (၈၉၇)၊နတ်ကြီးချောင်ကျေးရွာအုပ်စု၊ လက်ပံကွင်း(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ကျုံကနင်း ကွင်း (၉၆၂)၊ဆင်ရွာကျေးရွာအုပ်စု၊ ကော့မံဖယ်ကွင်း (၉၆၃)၊အီပြစ်ကျေးရွာအုပ်စု၊ အကွက် အမှတ်- ကျုံကခြံခွဲ၊ ပေါင်ခြံခွဲမြေဧရိယာ (၁၀၀၉) ဧက ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက် ဖြင့် အမှတ် (၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီး ဌာနနှင့် အကျိုး တူရာဘာစိုက်ပျိုးထုတ်လုပ်နိုင်ရန် အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကောင်းဟိန်း ဇမ္ဗူကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာကိုစိစစ်ပေးနိုင်ပါရန် အဆိုပြု လွှာများကိုပေးပို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

( ဟန်ဦး )
အုပ်ချုပ်မှုဒါရိုက်တာ

# ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

KAUNG HEIN ZABU CO.,LTD

Tel: 09-796964792, 09-255751452

Address: NatKyi Chaung Village (North)
Paung Township, Mon State


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၂-၂-၂၀၁၆

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့် များလျှောက် ထားခြင်း။**

၁။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရဖွဲ့စည်းထားသည့်ကျွန်တော်များ၏ ကောင်းဟိန်း ဇမ္ဗူကုမ္ပဏီလီမိတက်သည်မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ ပေါင်-ကျူကရာဘာခြံ၊ကွင်းအမှတ် နှမ်းတစိတ် ကွင်း (၈၉၇)၊နတ်ကြီးချောင်ကျေးရွာအုပ်စု၊ လက်ပံကွင်း(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ကျူကနင်း ကွင်း (၉၆၂)၊ဆင်ရွာကျေးရွာအုပ်စု၊ ကော့မ်ဖယ်ကွင်း (၉၆၃)၊အီပြစ်ကျေးရွာအုပ်စု၊ အကွက် အမှတ်-ကျူက ခြံခွဲ၊ ပေါင်ခြံခွဲမြေဧရိယာ(၁၀၀၉)ဧကကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ခွင့်ပြုချက်ဖြင့် အမှတ် (၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနနှင့် အကျိုး တူရာဘာစိုက်ပျိုးထုတ်လုပ်နိုင်ရန် အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်( ၄၇၀)သန်းဖြစ်ပါသည်။ အဆို ပါ ရင်းနှီးမြှုပ်နှံမှုတွင် စိုက်ပျိုးထားရှိပြီးဖြစ်သည့် အစေးလှီးဧရိယာများနှင့် ထိန်းသိမ်းဧရိယာရှိ ရာဘာ ပင် များကိုပြုစုထိန်းသိမ်းခြင်း၊ ပြန်စိုက် ဧရိယာတွင် ရာဘာပင်သစ်များ စိုက်ပျိုးခြင်း နှင့်စက်ကရိယာ ပစ္စည်းများ ဝယ်ယူခြင်း အတွက် ကုန်ကျစရိတ်များ ပါဝင်ပါသည်။

၃။ သို့ဖြစ်ပါ၍နိုင်ငံတော်အတွက်ရသင့်ရထိုက်သည့် အခွန်ငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ နိုင်ငံ တကာအဆင့်မီ ရာဘာစိုက်ပျိုးရေးလုပ်ငန်း တိုးတက်လာ စေရန်အတွက် လည်းကောင်း၊ ကျွန်တော် များကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် လျှောက် ထားခြင်းကို လက်ခံစဉ်းစား ပေးပါရန်နှင့် မြန်မာနိုင်ငံသားရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထား အပ်ပါသည်။

၄။ လျှောက်လွှာနှင့်အတူ အောက်ပါစာရွက်စာတမ်း အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေး အထောက်အထားများ၊

(ဂ) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(ဃ) ဘဏ္ဍာရေးအချက်အလက်နှင့်ပတ်သက်သည့် တွက်ချက်မှုဇယားများ

လေးစားစွာဖြင့်

( ဟန်ဦး )

အုပ်ချုပ်မှုဒါရိုက်တာ

# ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

## KAUNG HEIN ZABU CO.,LTD

Tel: 09-796964792, 09-255751452

Address: NatKyi Chaung Village (North)
Paung Township, Mon State


သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၂-၂-၂၀၁၆

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက် ၍ ကတိဝန်ခံချက်တင်ပြခြင်း**

၁။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရဖွဲ့စည်းထားသည့်ကျွန်တော်များ၏ ကောင်းဟိန်း ဇမ္ဗူကုမ္ပဏီလီမိတက်သည်မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ ပေါင်-ကျူကရာဘာခြံ၊ကွင်းအမှတ် နှမ်းတစိတ် ကွင်း (၈၉၇)၊နတ်ကြီးချောင်ကျေးရွာအုပ်စု၊ လက်ပံကွင်း(၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ ကျူကနင်း ကွင်း (၉၆၂)၊ဆင်ရွာကျေးရွာအုပ်စု၊ ကော့မံဖယ်ကွင်း (၉၆၃)၊အီပြစ်ကျေးရွာအုပ်စု၊ အကွက် အမှတ်-ကျူက ခြံခွဲ၊ ပေါင်ခြံခွဲမြေဧရိယာ (၁၀၀၉) ဧကကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် အမှတ် (၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို)၊အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီး ဌာန နှင့် အကျိုး တူရာဘာစိုက်ပျိုးထုတ်လုပ်နိုင်ရန် အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။ ဤသို့လျှောက်ထားရာတွင် အောက် ပါတို့ကို ဝန်ခံကတိပြု ပါ သည်။

(က) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန်အတွက် လိုအပ် သော အစီအမံ များဆောင်ရွက်ထားမည့်အပြင် မီးဘေးကြိုတင် ကာကွယ်နိုင်ရန် အ တွက် **Fire Extinguisher Equipments** များကို အသုံးပြုသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(ခ) ယခု အဆိုပြုတင်ပြသည့် လုပ်ငန်းကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့တင်ပြ ခဲ့ဘူးခြင်းမရှိ ပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(ဂ) နိုင်ငံတော်မှမြေယာနှင့် ပတ်သက်၍ပြဌာန်းသတ်မှတ်ထားသည့် စည်းကမ်းဥပဒေ များ နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် ပတ်သက်၍ ပြဌာန်းသတ်မှတ်ထားသည့် စည်းကမ်း ဥပဒေများကိုလည်းလိုက်နာမည်ဖြစ် ပါကြောင်း ဝန်ခံကတိ ပြုပါသည်။

(ဃ) ဝယ်ယူမည့် လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းကိရိယာများကို လည်း အသစ်စက် စက်များကိုသာ ဝယ်ယူမည်ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုပါ သည်။

(င) ရာဘာစိုက်ပျိုးထုတ်လုပ်ရာတွင်သက်ဆိုင်ရာဝန်ကြီးဌာန၏စည်းမျဥ်းစည်းကမ်း၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ ဆောင်ရွက်ပါမည်

(စ) ကုမ္ပဏီလီမိတက်တွင် ခန့်အပ်မည့်ဝန်ထမ်းများ၏ လစာငွေမှတစ်နှစ်လျှင် ကျပ် (၂၀၀၀၀၀၀)အထက်ရရှိသောဝန်ထမ်းများ၏ ဝင်ငွေခွန်ကိုသတ်မှတ်ထားသည့် နှုန်းထား များအတိုင်း ကုမ္ပဏီမှပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(ဆ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သတ်မှတ်ထားသည့် အာမခံများကို ထားရှိမည် ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(ဟန်ဦး)

အုပ်ချုပ်မှုဒါရိုက်တာ

# ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

# KAUNG HEIN ZABU CO.,LTD

Tel: 09-796964792, 09-255751452

Address: NatKyi Chaung Village (North)
Paung Township, Mon State


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊၁၉-၂-၂၀၁၆

အကြောင်းအရာ။ **ရာဘာကေစာရင်းများတင်ပြခြင်း**

စက်မှုဝန်ကြီးဌာနနှင့် ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်တို့အကျိုးတူရာဘာစိုက်ပျိုး ထုတ်လုပ်မည့် ကေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| ကွင်းအမည် | အစေးလှီးကေ | ထိန်းသိမ်းကေ | ပြန်စိုက်ကေ | စုစုပေါင်း |
|---|---|---|---|---|
| နှမ်းတစိတ်ကွင်း | ၅၃ | | | ၅၃ |
| လက်ပံကွင်း | ၂၂၂ | | ၁၀၀ | ၃၂၂ |
| ကျုံကနင်းကွင်း | ၂၆၅ | ၁၁၅ | ၁၅ | ၃၉၅ |
| ကော့မံဖယ်ကွင်း | ၆၉ | ၁၅၀ | ၂၀ | ၂၃၉ |
| စုစုပေါင်း | ၆၀၉ | ၂၆၅ | ၁၃၅ | ၁၀၀၉ |

(ဟန်ဦး)
အုပ်ချုပ်မှုဒါရိုက်တာ

# ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

# KAUNG HEIN ZABU CO.,LTD

Tel: 09-796964792, 09-255751452

Address: NatKyi Chaung Village (North)
Paung Township, Mon State


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၉-၄-၂၀၁၆

အကြောင်းအရာ။ **Kaung Hein Zabu Co.,Ltd မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍တင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ အရ ဖွဲ့စည်းထားသည့်ကျွန်တော်များ၏ ကောင်းဟိန်းဇမ္ဗူ ကုမ္ပဏီလီမိ တက်သည်မွန်ပြည်နယ်၊ ပေါင်မြို့ နယ်၊ ပေါင်-ကျူက ရာဘာခြံကို ၊အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီး ဌာနနှင့် အကျိုးတူ ရာဘာစိုက်ပျိုးထုတ်လုပ်ရာ၌ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် သက်ဆိုင်ရာ ဌာနများ ၏ညွှန်ကြားချက်များနှင့်အညီ (EMP) အစီအစဉ်များရေးဆွဲဆောင်ရွက်နိုင်ရန်အတွက် တတိယ အဖွဲ့အစည်း နှင့်ညှိနှိုင်းလျှက်ရှိပါသည်။

၂။ (EMP)အစီအစဉ်များရရှိပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည်ဖြစ် ကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဟန်ဦး)
အုပ်ချုပ်မှုဒါရိုက်တာ

000212



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ(မနသ-၁)

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ**
**ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်**
**( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့်ပုဒ်မ ၈)**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၂-၂-၂၀၁၆

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖေါ်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် - ဦးဟန်ဦး

(ခ) အဖအမည် - ဦးကောင်းအိုင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၁၀/ပမန(နိုင်)၀၈၇၁၇၀

(ဃ) နေရပ်လိပ်စာ - နတ်ကြီးချောင်ကျေးရွာ(အနောက်)၊ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး(အရှေ့)၊ပေါင်မြို့မွန်ပြည်နယ်

(င) လူမျိုး၊ဘာသာ - ဗမာ၊ ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် - ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်၊

(ဆ) လုပ်ငန်းအမျိုးအစား - စိုက်ပျိုးရေးလုပ်ငန်

(ဇ) အဖွဲ့အစည်းတည်နေရာအရပ် - နတ်ကြီးချောင်ကျေးရွာ(အနောက်)၊ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး(အရှေ့)၊ပေါင်မြို့မွန်ပြည်နယ်

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူ၏

(က) အမည် -

(ခ) အဖအမည် -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် -

(ဃ) နေရပ်လိပ်စာ -

(င) လူမျိုး၊ဘာသာ -

(စ) အဖွဲ့အစည်းအမည် -

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်နေရာအရပ်

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - ရာဘာအစေးလှီးခြင်း၊ထိန်းသိမ်းခြင်း၊ပြန်လည်စိုက်ပျိုးခြင်းနှင့်မှိုင်းခံရာဘာထုတ်လုပ်ခြင်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း -

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲဇယား-၁)

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့်(သို့)ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်၊

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုစပ်ထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ -

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား -

(ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ်(၅၀၀,၀၀၀,၀၀၀)ကျပ်သန်းငါးရာ

(ခ) အစုရှယ်ယာအမျိုးအစား - (တစ်စုလျှင်ကျပ်၁၀၀၀၀)ကျပ်တစ်သောင်းတန်သာမန်အစုရှယ်ယာ(၅၀၀၀၀)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ - တစ်စုလျှင်ကျပ်တစ်သောင်းတန်အစုရှယ်ယာ (၄၇၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) မတည်ငွေရင်းပမာဏ(ထောင်ပေါင်း)

| | | | ကျပ်ငွေ | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|---|---|
| ၁။ | ငွေပမာဏ | - | ၄၀၀၀၀၀ | | ၄၀၀၀၀၀ |
| ၂။ | အဆောက်အဦး | - | | | |
| ၃။ | မြေ | - | | | |
| ၅။ | စက်ပစ္စည်းကရိယာ/လုပ်ငန်းသုံးပစ္စည်း | - | ၇၀၀၀၀ | | ၇၀၀၀၀ |
| ၆။ | အခြား | - | | | |
| | **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | | **၄၇၀၀၀၀** | | **၄၇၀၀၀၀** |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

၁။ စက်ပစ္စည်းကရိယာများ၏တန်ဖိုး

၂။ ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်းများ ၏တန်ဖိုး(ဆောက်လုပ်ရေးပစ္စည်း)

၃။ ငွေသားဖြင့်ချေးငွေပမာဏ -

(ဂ) တည်ဆောက်မှုကာလ -

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုမည့်ကာလ -

(င) တည်ဆောက်မှုစတင်မည့်အချိန် -

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်ဆိုင်သောအချက်အလက်များ

| | | | |
|---|---|---|---|
| (က) | လုပ်ငန်းအမျိုးအစား<br>(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည်ဖြင့်ဖော်ပြရန်) | - | ရာဘာအစေးလှီးခြင်း၊ထိန်းသိမ်းခြင်း၊ ပြန်လည်စိုက်ပျိုးခြင်းနှင့် မှိုင်းခံရာဘာပြား ထုတ်လုပ်ခြင်းလုပ်ငန်း |
| (ခ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ | - | ပေါင်မြို့နယ်ပေါင်-ကျုံကရာဘာခြံ၊ကွင်းအမှတ် နှမ်းတစိတ်ကွင်း(၈၉၇)၊နတ်ကြီးချောင်ကျေးရွာအုပ်စု၊လက်ပံကွင်း (၉၂၆)၊ ကျခတ်ငူကျေးရွာအုပ်စု၊ကျုံကနင်းကွင်း(၉၆၂)၊ဆင်ရွာကျေးရွာအုပ်စု၊ကော့မံဖယ်ကွင်း(၉၆၃)အီပြစ်ကျေးရွာအုပ်စု၊ အကွက်အမှတ်-ကျုံကခြံခွဲ၊ ပေါင်ခြံခွဲ |
| (ဂ) | ဆောင်ရွက်ပုံစနစ် | - | ခေတ်မီရာဘာစိုက်ပျိုးရေးနည်းစနစ် |
| (ဃ) | နှစ်စဉ်စက်သုံးဆီလိုအပ်ချက် | - | |
| | ၁။ ဒီဇယ်ဆီ | - | ဂါလံ(၅၀၀) |
| | ၂။ ဓါတ်ဆီ | - | ဂါလံ(၂၀၀) |
| | ၃။ စက်ဆီ၊ချောဆီ | - | ဂါလံ(၁၂) |
| (င) | နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် | | |
| | ၁။ လျှပ်စစ်ဓါတ်အား | - | ၁၀၀၀ KWH |
| | ၂။ ဒီဇယ်အင်ဂျင်စက်အား | - | |
| | ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | - | |
| | ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - | |
| | ၅။ ပေးပို့သည့်အား(ရေအားလေအားစသည်များ) | | |
| (စ) | နှစ်စဉ်ရေလိုအပ်ချက် | - | |
| | ၁။ တစ်နေ့ရေလိုအပ်ချက် | - | ဂါလံ(၁၀၀) |
| | ၂။ တစ်နှစ်ရေလိုအပ်ချက် | - | ဂါလံ(၃၆၀၀၀) |
| (ဆ) | နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် | - | |
| (ဇ) | အဆောက်အဦးလိုအပ်ချက် | - | |
| (ဈ) | မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်း လိုအပ်ချက် | - | အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊စက်မှုဝန်ကြီးဌာနပိုင်ရာဘာခြံ၊မြေဧရိယာ (၁၀၀၉)ဧက |
| (ည) | ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု | | (နောက်ဆက်တွဲဇယား-၅) |
| (ဋ) | ရောင်းချမည့်စနစ် | - | ပြည်တွင်းလုပ်ငန်းများသို့(၁၀၀%)ရောင်းချခြင်း |

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ

| | | | |
|---|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | - | နောက်ဆက်တွဲဇယား-၈ |
| (ခ) | လိုအပ်မည့်နိုင်ငံခြားသုံးငွေ | - | |
| (ဂ) | ရရှိနိုင်မည့်နိုင်ငံခြားသုံးငွေပမာဏ | - | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း | - | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့်ကုန်ပစ္စည်း ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | နောက်ဆက်တွဲဇယား-၅ |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းစာရင်း

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ - နောက်ဆက်တွဲဇယား-၆၊(၁၈)ဦး

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဥ်းသောအချက်အလက်များ

(က) နှစ်စဥ် ဝင်ငွေရရှိမှု - နောက်ဆက်တွဲဇယား-၈

(ခ) နှစ်စဥ်လုပ်ငန်းကုန်ကျစရိတ် - နောက်ဆက်တွဲဇယား-၈

(ဂ) နှစ်စဥ်အသားတင်အမြတ် - နောက်ဆက်တွဲဇယား-၈

(ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု - နောက်ဆက်တွဲဇယား-၂

(င) အရင်းကြေကာလ - နောက်ဆက်တွဲဇယား-၉

(စ) အခြားအကျိုးအမြတ်များ - နောက်ဆက်တွဲဇယား-၁၁

(ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် ခြေအနေ - နောက်ဆက်တွဲဇယား-၆၊(၁၈)ဦး

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဥ်းသည့် အချက်အလက်များ

အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြ အပ်ပါသည်။

(က) ပဋိညာဥ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဥ်းများ

(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့်ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ

လက်မှတ်

အမည် ဦးဟန်ဦး

ရာထူး အုပ်ချုပ်မှုဒါရိုက်တာ
ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်၊

**Kaung Hein Zabu Co.,Ltd**
**List of Director**

**Exhibit.No.I**

| စဉ် | အမည်/နေရပ်လိပ်စာ | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ရာထူး | အစုရှယ်ယာ |
|---|---|---|---|---|
| ၁ | ဦးဘုန်းမြင့်<br>ကဒ့်စီးရပ်ကွက်၊ပေါင်မြို့<br>မွန်ပြည်နယ် | မြန်မာ<br>၁၀/ပမန(နိုင်)၀၀၉၀၁၆ | ဥက္ကဋ္ဌ | ၂၅၀၀ |
| ၂ | ဦးဟန်ဦး<br>နတ်ကြီးချောင်းကျေးရွာ(အနောက်)<br>ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး(အရှေ့)<br>ပေါင်မြို့၊မွန်ပြည်နယ် | မြန်မာ<br>၁၀/ပမန(နိုင်)၀၈၇၁၇၀ | အုပ်ချုပ်မှု ဒါရိုက်တာ | ၁၅၀၀ |
| ၃ | ဦးမြင့်ဦး<br>နတ်ကြီးချောင်းကျေးရွာ(အနောက်)<br>ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး(အနီး)<br>ပေါင်မြို့၊မွန်ပြည်နယ် | မြန်မာ<br>၇/အဖန(နိုင်)၀၄၄၅၆၉ | ဒါရိုက်တာ | ၁၀၀၀ |

**Kaung Hein Zabu Co.,Ltd**
**Investment & Capital Cost**

**Exhibit No.II**

| Sr. No | Particulars | Kyat in thousand |
|---|---|---|
| | **Investment Type** | |
| | Local Equity Capital | |
| 1 | In Cash | **400,000** |
| 2 | In Machineries & Equipment | **70,000** |
| 3 | Building * | |
| | **Total** | **470,000** |

Note - Office Building = Existing Building

As a requirement for working capital, 198490 (Kyat in thousands) is included in Cash Contribution.

Depreciation Cost = 10% on Value of Machinery & Equipment=7000 (Kyat in thousand)

Performance Guarntee ကျပ် ၁၉၈.၄၉၀ သန်းကို စာချုပ်လက်မှတ်ရေးထိုးပြီးနောက် စာချုပ်ပါ သတ်မှတ်ချက်အတိုင်း အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းသို့ ကုမ္ပဏီငွေသားဖြင့် ပေးသွင်း သွားမည်ဖြစ်ပါသည်။

**Kaung Hein Zabu Co.,Ltd**
**Machineries & Equipments (Local Purchase)**

**Exhibit No.III**

| Sr No. | Description | Qty | Unit Price Kyat(000) | Total Kyat(000) |
|---|---|---|---|---|
| | **Machineries & Equipments** | | | |
| 1 | Tractor with Accessories 95 HP | 1 | 35,000 | 35,000 |
| 2 | Press Machine | 1 | 10,000 | 10,000 |
| 3 | Backhole | 1 | 25,000 | 25,000 |
| | **Total** | | | **70,000** |

**Kaung Hein Zabu Co.,Ltd**

**Allocation of Investment Cost for Rubber Plant Conservation, Rubber Plant Tapping & Latex Collecting and Transplantation**

**Exhibit No.IV**

| Sr No. | Particular | Total Cost (Kyat in Thousand) |
|---|---|---|
| 1 | Expected Cost for Conservation work in (265) acres | 128750 |
| 2 | Expected Cost for Rubber Plant Tapping & Latex Collecting work in (609) acres | 32243 |
| 3 | Expected Cost for Transplanting work in (135) acres | 40517 |
| | **Total** | **201510** |

## ကောင်းဟိန်းဇမ္ဗူကုမ္ပဏီလီမိတက်

## ရော်ဘာထိန်းသိမ်း၊ အစေးလှီး၊ ပြန်စိုက်လုပ်ငန်းအတွက် ရှင်းလင်းချက်

**ထိန်းသိမ်းခြင်းလုပ်ငန်း(Conservation)**

| | | |
|---|---|---|
| မူလရှိရင်းဧက | = | ၆၀၉ ဧက |
| စိုက်ပျိုးပြီးသည့်ဧက | = | ၂၆၅ ဧက |
| ပြန်စိုက်ရန်လျာထားဧက | = | ၁၃၅ ဧက ( Year 2 မှ စတင်ပါမည်။) |
| **ဧကစုစုပေါင်း** | = | **၁၀၀၉ ဧက** |
| **ထိန်းသိမ်းလုပ်ငန်းဆောင်ရွက်ရန်ဧက** | = | **၂၆၅ ဧက** |

**အစေးလှီးလုပ်ငန်း** (Rubber Plant Tapping & Latex Collecting)

စိုက်ပျိုးပြီး (၂၆၅)ဧက တွင် (၇-၈)နှစ်သက်တမ်းရောက်ပါက အစေးလှီးနိုင်သည်ဖြစ်ရာ-

(၇)နှစ်သား - ၃၀ ဧကကို Year (1) တွင်လည်းကောင်း

(၅)နှစ်သား - ၈၅ ဧကကို Year(3) တွင်လည်းကောင်း

(၃)နှစ်သား - ၅၀ ဧကကို Year(5) တွင်လည်းကောင်း (၂)နှစ်သား ၁၀၀ ဧကကို Year(7)တွင်လည်းကောင်း အစေးလှီးရန် ထည့်သွင်း တွက်ချက်နိုင်ပါသည်။ အစေးလှီးဧက ကို ဤသို့အခြေခံ၍ ခန့်မှန်းတွက်ချက်ထားပါသည်။

**ပြန်စိုက်လုပ်ငန်း** (Transplanting)

ပြန်စိုက်လုပ်ငန်း(၁၃၅)ဧကကို Year(2) တွင် အကောင်အထည်ဖော်မည်ဖြစ်ရာ Year(9) တွင် အစေးလှီးဧက အဖြစ်ထည့်သွင်းတွက်ချက်ထားပါသည်။

## ကုမ္ပဏီမှဆောင်ရွက်မည့် ရော်ဘာခြံစိုက်ကွင်းလုပ်ငန်းများ

**ထိန်းသိမ်းခြင်းလုပ်ငန်း(Conservation)**

အောက်ပါလုပ်ငန်းများကို အချိန်နှင့် တစ်ပြေးညီပြုစုဆောင်ရွက်ပါမည်-

(၁) ခြုံခုတ်ခြင်း၊ လမ်း/တံတား ပြုပြင်ခြင်း

(၂) အပင်ဖာထေးခြင်း၊ အပင်ပြုပြင်ခြင်း

(၃) အပင်နှင့်မြေသားကို မပျက်စီးစေမည့် အရည်အသွေးကောင်း မြေဩဇာများ ကျွေးခြင်း၊ ပေါင်းသတ်ဆေးဖျန်းခြင်း

(၄) ပေါင်းနှိမ်ခြင်း၊ မီးဘေးကာကွယ်ရန် မီးတားလမ်းများ ဖောက်လုပ်ခြင်း

(၅) အပင်စစ်တမ်းကောက်ယူခြင်း

(၆) အစိုဓါတ်ထိန်းသိမ်းခြင်း

(၇) လိုအပ်ပါက ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်ရယူ၍ ဆောင်ရွက်ခြင်း

**အစေးလှီးလုပ်ငန်း (Rubber Plant Tapping & Latex Collecting)**

အောက်ပါလုပ်ငန်းရပ်များကို အချိန်နှင့် တစ်ပြေးညီ ပြုစုဆောင်ရွက်ပါမည်-

(၁) အပင်စစ်တမ်းကောက်ယူခြင်း

(၂) အစေးလှီးလုပ်ငန်းမစတင်မီ တောခုတ်ခြင်း၊ ပေါင်းရှင်းခြင်း၊ မီးတားလမ်းဖောက်လုပ်ခြင်း

(၃) အစေးလှီးပင်အားလုံးကို အစေးလှီးနိုင်ရေး ဆောင်ရွက်ခြင်း

(၄) ခွာခြစ်ရန် တန်ဆာပလာများ၊ အစေးစုတိုင်းကရိယာများ၊ အစေးခံရန်/သယ်ရန် ပုံးများနှင့် ပစ္စည်းကရိယာများ၊ ဓါတ်ဆေးနှင့် အစေးခဲပစ္စည်းများ၊ ပိုးမွှားကာကွယ်ဆေးများ စုဆောင်းဖြည့်တင်းထားရှိခြင်း

(၅) မီးစောင့်၊ ကွင်းစောင့်များ၊ မီးဘေးကာကွယ်မည့် ပစ္စည်းများ အသင့်ထားရှိ၍ မီးဘေးအန္တရာယ်ကာကွယ်ခြင်း

(၆) လုပ်သားများကို စုစည်းထားရှိ၍ လုပ်သားယာယီတဲများ ဆောက်လုပ်ခြင်း

(၇) လိုအပ်သည့် စက်ပစ္စည်းကရိယာများဖြစ်သည့် ရေစုပ်စက်၊ မီးစက်၊ အစေးကြိတ်စက်၊ လေမှုတ်စက်၊ Trollergy နှင့် ရော်ဘာကြိတ်စက်များကို စွမ်းအားပြည့် လည်ပတ်နိုင်ရန် အသင့်ပြင်ဆင်ထားခြင်း

(၈) လိုအပ်ပါက ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်ရယူ၍ ဆောင်ရွက်ခြင်း

## ပြန်စိုက်လုပ်ငန်း (Transplanting)

အောက်ပါလုပ်ငန်းရပ်များကို အချိန်နှင့် တစ်ပြေးညီ ပြုစုဆောင်ရွက်ပါမည်-

(၁) ၁ ဧက ပေါင် ၁၂၀၀ အထက် ထွက်ရှိသော မျိုးကောင်းမျိုးသန့်များကို ရွေးချယ်စိုက်ပျိုးခြင်း

(၂) ၁ ဧကလျှင် အနည်းဆုံးအပင်(၂၀၀) ရရှိအောင် စိုက်ပျိုးခြင်း

(၃) တောခုတ်ခြင်း၊ ၆' လိုင်းဆွဲခြင်း၊ အစိုဓါတ်ထိန်းသိမ်းခြင်း၊ အပင်ပြုပြင်ခြင်း

(၄) မြေအလိုက်၊ စိုက်ကွင်းအလိုက် ပြန်စိုက်လုပ်ငန်းများ ဆောင်ရွက်ပြီး (၇)နှစ် - (၈)နှစ် အကြာတွင် အစေးလှီးရန် ဆောင်ရွက်ခြင်း

(၅) လိုအပ်ပါက ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်ရယူ၍ ဆောင်ရွက်ခြင်း

**Kaung Hein Zabu Co.,Ltd**
**Statement of Annual Production & Product Sharing**

**Exhibit No.V.A**

| Sr No. | | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10-25 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | Total area for rubber plant Tapping & Latex Collection | acre | 639 | 639 | 724 | 724 | 774 | 774 | 874 | 874 | 1,009 | 1,009 |
| 2 | | Average yield per acre | Pound | 450 | 475 | 500 | 525 | 550 | 575 | 600.00 | 625 | 650 | 700 |
| 3 | | Gross product | Pound | 287,550 | 303,525 | 362,000 | 380,100 | 425,700 | 445,050 | 524,400 | 546,250 | 655,850 | 706,300 |
| | 1 | RSS 1 35% | 〃 | 100,643 | 106,234 | 126,700 | 133,035 | 148,995 | 155,768 | 183,540 | 191,188 | 229,548 | 247,205 |
| | 2 | RSS 2 20% | 〃 | 57,510 | 60,705 | 72,400 | 76,020 | 85,140 | 89,010 | 104,880 | 109,250 | 131,170 | 141,260 |
| | 3 | RSS 3 15% | 〃 | 43,132 | 45,529 | 54,300 | 57,015 | 63,855 | 66,757 | 78,660 | 81,937 | 98,377 | 105,945 |
| | 4 | RSS 4 15% | 〃 | 43,132 | 45,529 | 54,300 | 57,015 | 63,855 | 66,757 | 78,660 | 81,937 | 98,377 | 105,945 |
| | 5 | RSS 5 5% | 〃 | 14,378 | 15,176 | 18,100 | 19,005 | 21,285 | 22,253 | 26,220 | 27,313 | 32,793 | 35,315 |
| | 6 | Crumb 10% | 〃 | 28,755 | 30,352 | 36,200 | 38,010 | 42,570 | 44,505 | 52,440 | 54,625 | 65,585 | 70,630 |
| 4 | | Product Share for Ministry of Industry | | | | | | | | | | | |
| | 1 | RSS 1 (Share 50%) | 〃 | 50,322 | 53,117 | 63,350 | 66,518 | 74,498 | 77,884 | 91,770 | 95,594 | 114,774 | 123,603 |
| | 2 | RSS 2 (Share 30%) | 〃 | 17,253 | 18,212 | 21,720 | 22,806 | 25,542 | 26,703 | 31,464 | 32,775 | 39,351 | 42,378 |
| | 3 | RSS 3 (Share 20%) | 〃 | 8,626 | 9,106 | 10,860 | 11,403 | 12,771 | 13,351 | 15,732 | 16,387 | 19,675 | 21,189 |
| | | **Sub-Total** | | **76,201** | **80,435** | **95,930** | **100,727** | **112,811** | **117,938** | **138,966** | **144,756** | **173,800** | **187,170** |
| 5 | | Product Share for the Company | | | | | | | | | | | |
| | | RSS 1 (50%) | Pound | 50,321 | 53,117 | 63,350 | 66,517 | 74,497 | 77,884 | 91,770 | 95,594 | 114,774 | 123,602 |
| | | RSS 2 (70%) | 〃 | 40,257 | 42,493 | 50,680 | 53,214 | 59,598 | 62,307 | 73,416 | 76,475 | 91,819 | 98,882 |
| | | RSS 3 (80%) | 〃 | 34,506 | 36,423 | 43,440 | 45,612 | 51,084 | 53,406 | 62,928 | 65,550 | 78,702 | 84,756 |
| | | RSS 4 (100%) | 〃 | 43,132 | 45,529 | 54,300 | 57,015 | 63,855 | 66,757 | 78,660 | 81,937 | 98,377 | 105,945 |
| | | RSS 5 (100%) | 〃 | 14,378 | 15,176 | 18,100 | 19,005 | 21,285 | 22,253 | 26,220 | 27,313 | 32,793 | 35,315 |
| | | RSS 6 (100%) | 〃 | 28,755 | 30,352 | 36,200 | 38,010 | 42,570 | 44,505 | 52,440 | 54,625 | 65,585 | 70,630 |
| | | **Sub-Total** | | **211,349** | **223,090** | **266,070** | **279,373** | **312,889** | **327,112** | **385,434** | **401,494** | **482,050** | **519,130** |

**Kaung Hein Zabu Co.,Ltd**
**Annual Income Statement**

**Exhibit No.V.B**

| Sr No. | | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10-25 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | Company's Share of Product | | | | | | | | | | | |
| | 1 | RSS 1 | Pound(000) | 50 | 53 | 63 | 67 | 74 | 78 | 92 | 96 | 115 | 124 |
| | 2 | RSS 2 | 〃 | 40 | 42 | 51 | 53 | 60 | 62 | 73 | 76 | 92 | 99 |
| | 3 | RSS 3 | 〃 | 35 | 37 | 44 | 46 | 51 | 53 | 63 | 66 | 79 | 85 |
| | 4 | RSS 4 | 〃 | 43 | 46 | 54 | 57 | 64 | 67 | 79 | 82 | 98 | 106 |
| | 5 | RSS 5 | 〃 | 14 | 15 | 18 | 19 | 21 | 22 | 26 | 27 | 33 | 35 |
| | 6 | Crumb | 〃 | 29 | 30 | 36 | 38 | 43 | 45 | 52 | 55 | 65 | 70 |
| 2 | | Price Per Pound | | | | | | | | | | | |
| | 1 | RSS 1 | Kyat | 650 | 650 | 650 | 650 | 650 | 650 | 650 | 650 | 650 | 650 |
| | 2 | RSS 2 | 〃 | 630 | 630 | 630 | 630 | 630 | 630 | 630 | 630 | 630 | 630 |
| | 3 | RSS 3 | 〃 | 600 | 600 | 600 | 600 | 600 | 600 | 600 | 600 | 600 | 600 |
| | 4 | RSS 4 | 〃 | 580 | 580 | 580 | 580 | 580 | 580 | 580 | 580 | 580 | 580 |
| | 5 | RSS 5 | 〃 | 520 | 520 | 520 | 520 | 520 | 520 | 520 | 520 | 520 | 520 |
| | 6 | Crumb | 〃 | 260 | 260 | 260 | 260 | 260 | 260 | 260 | 260 | 260 | 260 |
| 3 | | Sales Income | | | | | | | | | | | |
| | 1 | RSS 1 | Kyat(000) | 32,500 | 34,450 | 40,950 | 43,550 | 48,100 | 50,700 | 59,800 | 62,400 | 74,750 | 80,600 |
| | 2 | RSS 2 | 〃 | 25,200 | 26,460 | 32,130 | 33,390 | 37,800 | 39,060 | 45,990 | 47,880 | 57,960 | 62,370 |
| | 3 | RSS 3 | 〃 | 21,000 | 22,200 | 26,400 | 27,600 | 30,600 | 31,800 | 37,800 | 39,600 | 47,400 | 51,000 |
| | 4 | RSS 4 | 〃 | 24,940 | 26,680 | 31,320 | 33,060 | 37,120 | 38,860 | 45,820 | 47,560 | 56,840 | 61,480 |
| | 5 | RSS 5 | 〃 | 7,280 | 7,800 | 9,360 | 9,880 | 10,920 | 11,440 | 13,520 | 14,040 | 17,160 | 18,200 |
| | 6 | Crumb | 〃 | 7,540 | 7,800 | 9,360 | 9,880 | 11,180 | 11,700 | 13,520 | 14,300 | 16,900 | 18,200 |
| | | **Total** | **Kyat(000)** | **118,460** | **125,390** | **149,520** | **157,360** | **175,720** | **183,560** | **216,450** | **225,780** | **271,010** | **291,850** |

Note : RSS = Ribbed Smoked Sheet = မိုင်းခံရာဘာ ပြား    Crumb = ရာဘာအစေးခြောက်

**Kaung Hein Zabu Co.,Ltd**
**Employment Statement & Salary Payment**
**(Kyats in Thousand)**

**Exhibit No.VI**

| Sr. | Particulars | Nos. | Year 1 | | Year 2 | | Year 3 | | Year 4 | | Year 5 | | Year 6-10 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | Monthly | Yearly Total | Monthly | Yearly Total | Monthly | Yearly Total | Monthly | Yearly Total | Monthly | Yearly Total | Monthly | Yearly Total |
| | **Existing Staffs** | | | | | | | | | | | | | |
| 1 | Deputy-Supervisor | 6 | 182 | 13,104 | 184 | 13,248 | 186 | 13,392 | 188 | 13,536 | 190 | 13,680 | 190 | 13,680 |
| 2 | Assistant Supervisor | 9 | 171 | 18,468 | 173 | 18,684 | 175 | 18,900 | 175 | 18,900 | 175 | 18,900 | 175 | 18,900 |
| 3 | Deputy Assistant Supervisor | 1 | 154 | 1,848 | 156 | 1,872 | 158 | 1,896 | 160 | 1,920 | 160 | 1,920 | 160 | 1,920 |
| | **New Staff** | | | | | | | | | | | | | |
| 1 | Accountant | 1 | 160 | 1,920 | 162 | 1,944 | 164 | 1,968 | 166 | 1,992 | 166 | 1,992 | 166 | 1,992 |
| 2 | General Worker | 1 | 150 | 1,800 | 151 | 1,812 | 152 | 1,824 | 153 | 1,836 | 154 | 1,848 | 154 | 1,848 |
| | **Total** | **18** | | **37,140** | | **37,560** | | **37,980** | | **38,184** | | **38,340** | | **38,340** |

Note : အမှတ်စဉ်(၁)မှ (၃)အထိမှာ ဌာနမှ လွှဲပြောင်းရယူထားသော ဝန်ထမ်းများဖြစ်ပါသည်။

**Kaung Hein Zabu Co.,Ltd**

**Estimated Cost for Electricity & Power**

**Exhibit No.VII**

| Sr No. | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5 |
|---|---|---|---|---|---|---|---|
| 1 | **Diesel** | | | | | | |
| | Annual Requirement | Gal | 500 | 500 | 500 | 500 | 500 |
| | Price per gallon | Kyat | 2,500 | 2,500 | 2,500 | 2,500 | 2,500 |
| | **Total Cost** | **Kyat(000)** | **1250** | **1250** | **1250** | **1250** | **1250** |
| 2 | **Petroleum** | | | | | | |
| | Annual Requirement | Gal | 200 | 200 | 200 | 200 | 200 |
| | Price per gallon | Kyat | 2,400 | 2,400 | 2,400 | 2,400 | 2,400 |
| | **Total Cost** | **Kyat(000)** | **480** | **480** | **480** | **480** | **480** |
| 3 | **Engine Oil** | | | | | | |
| | Annual Requirement | Gal | 12 | 12 | 12 | 12 | 12 |
| | Price per gallon | Kyat | 5000 | 5000 | 5000 | 5000 | 5000 |
| | **Total Cost** | **Kyat(000)** | **60** | **60** | **60** | **60** | **60** |
| 4 | **Electricity** | | | | | | |
| | Annual Requirement | KWH | 1000 | 1000 | 1000 | 1000 | 1000 |
| | Price per KWH | Kyat | 100 | 100 | 100 | 100 | 100 |
| | **Total Cost** | **Kyat(000)** | **100** | **100** | **100** | **100** | **100** |
| | **Grand Total** | **Kyat(000)** | **1890** | **1890** | **1890** | **1890** | **1890** |

**Kaung Hein Zabu Co.,Ltd**
**Profit & Loss Statement ( Kyat In thousand )**

**Exhibit No.VIII**

| Sr No. | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | **Income** | | | | | | | | | | |
| | | Sales Income | 118,460 | 125,390 | 149,520 | 157,360 | 175,720 | 183,560 | 216,450 | 225,780 | 271,010 | 291,850 |
| | | **Sub-total** | **118,460** | **125,390** | **149,520** | **157,360** | **175,720** | **183,560** | **216,450** | **225,780** | **271,010** | **291,850** |
| 2 | | **Expenditure** | | | | | | | | | | |
| | 1 | Direct Material Cost | 4,751 | 5,031 | 6,240 | 6,602 | 7,514 | 7,900 | 10,728 | 11,176 | 13,120 | 14,126 |
| | 2 | Direct Cost | 5,953 | 6,783 | 9,824 | 10,765 | 13,136 | 14,143 | 17,893 | 19,055 | 23,104 | 26,728 |
| | 3 | Labour Cost | 38,397 | 40,244 | 46,016 | 48,143 | 52,178 | 53,937 | 58,325 | 60,619 | 76,039 | 80,005 |
| | 4 | Salaries & Wages | 37,140 | 37,560 | 37,980 | 38,184 | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 |
| | 5 | Electricity & Power | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 |
| | 6 | Commercial Tax | 5,923 | 6,270 | 7,476 | 7,868 | 8,786 | 9,178 | 10,823 | 11,289 | 13,551 | 14,593 |
| | 7 | Depreciation | 7,000 | 7,000 | 7,000 | 7,000 | 7,000 | 7,000 | 7,000 | 7,000 | 7,000 | 7,000 |
| | 8 | Miscellaneous | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 |
| | | **Sub-total** | **101,154** | **104,878** | **116,526** | **120,552** | **128,944** | **132,488** | **145,099** | **149,469** | **173,144** | **182,782** |
| | | **Profit before tax** | **17,306** | **20,512** | **32,994** | **36,808** | **46,776** | **51,072** | **71,351** | **76,311** | **97,866** | **109,068** |
| | | **Income Tax** | | | | | | **12,768** | **17,838** | **19,078** | **24,467** | **27,267** |
| | | **Profit after tax** | **17,306** | **20,512** | **32,994** | **36,808** | **46,776** | **38,304** | **53,513** | **57,233** | **73,400** | **81,801** |
| | | **CSR 2%** | **346** | **410** | **660** | **736** | **936** | **766** | **1,070** | **1,145** | **1,468** | **1,636** |

**Kaung Hein Zabu Co.,Ltd**
**Profit & Loss Statement ( Kyat In thousand )**

**Exhibit No.VIII Concld;**

| Sr No. | | Particulars | Year 11 | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20-25 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | **Income** | | | | | | | | | | |
| | | Sales Income | 291,850 | 291,850 | 291,850 | 291,850 | 291,850 | 291,850 | 291,850 | 291,850 | 291,850 | 291,850 |
| | | **Sub-total** | **291,850** | **291,850** | **291,850** | **291,850** | **291,850** | **291,850** | **291,850** | **291,850** | **291,850** | **291,850** |
| 2 | | **Expenditure** | | | | | | | | | | |
| | 1 | Direct Material Cost | 14,126 | 14,126 | 14,126 | 14,126 | 14,126 | 14,126 | 14,126 | 14,126 | 14,126 | 14,126 |
| | 2 | Direct Cost | 26,728 | 26,728 | 26,728 | 26,728 | 26,728 | 26,728 | 26,728 | 26,728 | 26,728 | 26,728 |
| | 3 | Labour Cost | 80,005 | 80,005 | 80,005 | 80,005 | 80,005 | 80,005 | 80,005 | 80,005 | 80,005 | 80,005 |
| | 4 | Salaries & Wages | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 | 38,340 |
| | 5 | Electricity & Power | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 | 1,890 |
| | 6 | Commercial Tax | 14,593 | 14,593 | 14,593 | 14,593 | 14,593 | 14,593 | 14,593 | 14,593 | 14,593 | 14,593 |
| | 7 | Depreciation | | | | | | | | | | |
| | 8 | Miscellaneous | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 | 100 |
| | | **Sub-total** | **175,782** | **175,782** | **175,782** | **175,782** | **175,782** | **175,782** | **175,782** | **175,782** | **175,782** | **175,782** |
| | | **Profit before tax** | **116,068** | **116,068** | **116,068** | **116,068** | **116,068** | **116,068** | **116,068** | **116,068** | **116,068** | **116,068** |
| | | **Income Tax** | **29,017** | **29,017** | **29,017** | **29,017** | **29,017** | **29,017** | **29,017** | **29,017** | **29,017** | **29,017** |
| | | **Profit after tax** | **87,051** | **87,051** | **87,051** | **87,051** | **87,051** | **87,051** | **87,051** | **87,051** | **87,051** | **87,051** |
| | | **CSR 2%** | **1,741** | **1,741** | **1,741** | **1,741** | **1,741** | **1,741** | **1,741** | **1,741** | **1,741** | **1,741** |

**Kaung Hein Zabu Co.,Ltd**

**Cash Flow Statement Showing Recoupment Period (Kyat in Million)**

**Exhibit No.IX**

| Sr. No. | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | **Total Cash Flow** | | | | | | | | | | |
| 1 | Profit after Tax | 17 | 20 | 33 | 37 | 47 | 38 | 54 | 57 | 73 | 82 |
| 2 | Depreciation | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 |
| | **Total** | **24** | **27** | **40** | **44** | **54** | **45** | **61** | **64** | **80** | **89** |
| **2** | **Investment & Capital Cost** | | | | | | | | | | |
| 1 | Cash | 400 | | | | | | | | | |
| 2 | Building | | | | | | | | | | |
| 3 | Machineries & Equipment | 70 | | | | | | | | | |
| | **Total** | **470** | | | | | | | | | |
| | **Net Cash Flow (1-2)** | **-446** | **27** | **40** | **44** | **54** | **45** | **61** | **64** | **80** | **89** |
| | **Opening Balance** | | **-466** | **-419** | **-379** | **-335** | **-281** | **-236** | **-175** | **-111** | **-31** |
| | **Closing Balance** | **-446** | **-439** | **-379** | **-335** | **-281** | **-236** | **-175** | **-111** | **-31** | **58** |

**Recoupment Period = 9 Years and 4 months**

**Period**

Year 1 to 9 = 9 Years

Year 10 (31/89)x 12 = 4 months

**Kaung Hein Zabu Co.,Ltd**

**Cash Flow Statement Showing Recoupment Period (Kyat in Million)**

**Exhibit No.IX Concld;**

| Sr. No. | Particulars | Year 11 | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20-25 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | **Total Cash Flow** | | | | | | | | | | |
| 1 | Profit after Tax | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 |
| 2 | Depreciation | | | | | | | | | | |
| | **Total** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** |
| **2** | **Investment & Capital Cost** | | | | | | | | | | |
| 1 | Cash | | | | | | | | | | |
| 2 | Building | | | | | | | | | | |
| 3 | Machineries & Equipment | | | | | | | | | | |
| | **Total** | | | | | | | | | | |
| | **Net Cash Flow (1-2)** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** |
| | **Opening Balance** | **58** | **145** | **232** | **319** | **406** | **493** | **580** | **667** | **754** | **841** |
| | **Closing Balance** | **145** | **232** | **319** | **406** | **493** | **580** | **667** | **754** | **841** | **928** |

**Kaung Hein Zabu Co.,Ltd**

**Cash Flow Statement Showing Working Capital Requirement (Kyat in Million)**

**Exhibit No.X**

| Sr. No. | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| A | **Cash InFlow** | | | | | | | | | | |
| 1 | Equity Capital | 470 | | | | | | | | | |
| 2 | Profit after Tax | 17 | 20 | 33 | 37 | 47 | 38 | 54 | 57 | 73 | 82 |
| 3 | Depreciation | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 | 7 |
| | **Total** | **494** | **27** | **40** | **44** | **54** | **45** | **61** | **64** | **80** | **89** |
| B | **Cash Outflow** | | | | | | | | | | |
| 1 | Machineries & Equipment | 70 | | | | | | | | | |
| | **Total** | **70** | | | | | | | | | |
| | **Net Cash Inflow (A-B)** | **424** | **27** | **40** | **44** | **54** | **45** | **61** | **64** | **80** | **89** |
| | **Opening Balance** | | **424** | **451** | **491** | **535** | **589** | **634** | **695** | **759** | **839** |
| | **Closing Balance** | **424** | **451** | **491** | **535** | **589** | **634** | **695** | **759** | **839** | **928** |

**Kaung Hein Zabu Co.,Ltd**

**Cash Flow Statement Showing Working Capital Requirement (Kyat in Million)**

**Exhibit No.X Concld;**

| Sr. No. | Particulars | Year 11 | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20-25 |
|---|---|---|---|---|---|---|---|---|---|---|---|
| A | **Cash InFlow** | | | | | | | | | | |
| 1 | Equity Capital | | | | | | | | | | |
| 2 | Profit after Tax | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 | 87 |
| 3 | Depreciation | | | | | | | | | | |
| | **Total** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** |
| B | **Cash Outflow** | | | | | | | | | | |
| 1 | Machineries & Equipment | | | | | | | | | | |
| | **Total** | | | | | | | | | | |
| | **Net Cash Inflow (A-B)** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** | **87** |
| | **Opening Balance** | **928** | **1015** | **1102** | **1189** | **1276** | **1363** | **1450** | **1537** | **1624** | **1711** |
| | **Closing Balance** | **1015** | **1102** | **1189** | **1276** | **1363** | **1450** | **1537** | **1624** | **1711** | **1798** |

**Koung Hein Zabu Co.,Ltd**
**Internal Rate of Return**

**Exhibit No.XI**

| Year | Net Cashflow (Kyat in million) | Discounted Cash Flow | | Discounted Cash Flow | |
|---|---|---|---|---|---|
| | | DF 10% | Net Present Worth | DF 20% | Net Present Worth |
| 1 | -446 | 0.909 | -405 | 0.833 | -372 |
| 2 | 27 | 0.826 | 22 | 0.694 | 19 |
| 3 | 40 | 0.751 | 30 | 0.579 | 23 |
| 4 | 44 | 0.683 | 30 | 0.482 | 21 |
| 5 | 54 | 0.621 | 34 | 0.402 | 22 |
| 6 | 45 | 0.564 | 25 | 0.335 | 15 |
| 7 | 61 | 0.513 | 31 | 0.279 | 17 |
| 8 | 64 | 0.467 | 30 | 0.233 | 15 |
| 9 | 80 | 0.424 | 34 | 0.194 | 16 |
| 10 | 89 | 0.386 | 34 | 0.162 | 14 |
| 11 | 87 | 0.350 | 30 | 0.135 | 12 |
| 12 | 87 | 0.319 | 28 | 0.112 | 10 |
| 13 | 87 | 0.290 | 25 | 0.093 | 8 |
| 14 | 87 | 0.263 | 23 | 0.078 | 7 |
| 15 | 87 | 0.239 | 21 | 0.065 | 6 |
| 16 | 87 | 0.218 | 19 | 0.054 | 5 |
| 17 | 87 | 0.198 | 17 | 0.045 | 4 |
| 18 | 87 | 0.180 | 16 | 0.038 | 3 |
| 19 | 87 | 0.164 | 14 | 0.031 | 3 |
| 20 | 87 | 0.149 | 13 | 0.026 | 2 |
| 21 | 87 | 0.135 | 12 | 0.022 | 2 |
| 22 | 87 | 0.123 | 11 | 0.018 | 2 |
| 23 | 87 | 0.112 | 10 | 0.015 | 1 |
| 24 | 87 | 0.102 | 9 | 0.013 | 1 |
| 25 | 87 | 0.092 | 8 | 0.010 | 1 |
| | **Total** | | **121** | | **-144** |

Internal Rate of Return = 10 + 10 (121/265)
= 10 + 4.5 = 14.5%

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၁၄ - ၁၉၉ /နပတ(၁၂၈)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၄ ရက်

အကြောင်းအရာ။ ရာဘာခြံများ အကျိုးတူခွဲဝေခံစားသည့် စာချုပ်(မူကြမ်း) များအပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၈-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂၃-စမ (၂) ၂၀၁၅-၂၀၁၆ ( ၃၀၄၂ )

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၇)စက်မှုကုန်ကြမ်း ဌာန ကြီးကြပ်မှုရှိ ရာဘာခြံများအား ပုဂ္ဂလိကနှင့် အကျိုးတူဆောင်ရွက်ရာတွင် ပုဂ္ဂလိကလုပ်ငန်းရှင် ဒေါ်နန်းခင်မြင့်ရီမှ ညောင်ချောင်းရာဘာခြံအားလည်းကောင်း၊ ပုဂ္ဂလိကလုပ်ငန်းရှင် ဦးဖုန်းမြင့်မှ ပေါင်-ကျုံကရာဘာခြံအားလည်းကောင်း တင်ဒါအောင်မြင်ခဲ့၍ ချုပ်ဆိုမည့် ရာဘာခြံစိုက်ပျိုးမှုအပေါ်ခွဲဝေ ခံစားသည့် စာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါ စာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၂ ရပ်သည် လုပ်ကွက် တည်နေရာနှင့် စာချုပ်ဝင်များကွဲပြားသော်လည်း စာချုပ်ပုံစံတစ်မျိုးတည်းရေးသားပြုစုချုပ်ဆိုထား သဖြင့် တစ်ပေါင်းတည်းစိစစ်အကြံပြုအပ်ပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)များအား ဥပဒေ ရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)များ အပိုဒ် ၃ တွင် "ရာဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေ



Acer/DSSW/Daw Nan Khin Myint Yee (14-12-2015)

နှင့်နေရိယာအား ပူးတွဲမြေပုံပါအတိုင်း” ဟုဖော်ပြထားပါသည်။ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုမည့် မြေနေရာအားရေးဆွဲထားသည့် မြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲထားသော မြေပုံဖြစ်ရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)များ အပိုဒ် ၈(ဂ)တွင် ရော်ဘာစိုက်ပျိုးလုပ်ကိုင်ရန် ကနဦးသက်တမ်းနှင့် သက်တမ်းတိုးမြှင့်ခြင်းအား ဖော်ပြထားသည်ကိုတွေ့ရှိရသောကြောင့် ယင်းစည်းကမ်းချက်များအား အပိုဒ် ၄ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောကာလတွင် ဖော်ပြထားပြီးဖြစ်သဖြင့် စာချုပ်ပါစည်းကမ်းချက်များ မထပ်စေရေးအတွက် ဌာနမှ တာဝန်ယူစိစစ်ရန် လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)များအပိုဒ် ၉(ဂ)တွင် “စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောမြေဧရိယာပေါ်တွင် နိုင်ငံတော်ပိုင်စီမံကိန်းဝင်အပင်များကို-------ဈေးနှုန်းအတိုင်းပြန်လည်ပေးလျော်ရမည်” ဟုဖော်ပြထားပါသည်။ ယင်းစည်းကမ်းချက်ပါ နိုင်ငံတော်ပိုင်စီမံကိန်းဝင်အပင်များဆိုရာ၌ မည်သည့်အပင်များပါဝင်ကြောင်း နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)များအပိုဒ် ၉(ဈ)တွင် “စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောမြေဧရိယာရှိသတ္တုကျောက်၊ မြေ၊ သဲနှင့် သဘာဝသယံဇာတများသည် နိုင်ငံပိုင်ဖြစ်၍ တူးဖော်ထုတ်လုပ်ခြင်းမပြုရ” ဟု ဖော်ပြထားရာ ယင်းစည်းကမ်းချက်အား အပိုဒ် ၂၁ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ၌ ဖော်ပြထားပြီးဖြစ်သဖြင့် စာချုပ်ပါစည်းကမ်းချက်များမထပ်စေရေးအတွက် ဌာနမှတာဝန်ယူ စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)များအပိုဒ် ၂၆ တွင် “လုပ်ငန်းလုပ်ကိုင်ခြင်း၊ ငွေပေးသွင်း------- နောက်ဆက်တွဲစာချုပ်ရေးထိုး ခြင်းအတွက် ပြုလုပ်သည့်မှတ်တမ်းများ-------- ဤစာချုပ်၏နောက်ဆက်တွဲ အစိတ်အပိုင်းဖြစ်သည်ဟု မှတ်ယူရမည်”

ဖော်ပြထားသော်လည်း ဤစာချုပ်(မူကြမ်း)၌ ပူးတွဲပါရှိလာခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏အရေးကြီးသော အစိတ်အပိုင်းဖြစ်သဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် နောက်ဆက်တွဲများအား ပြည့်စုံစွာပူးတွဲထားရှိရန် လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)များအပိုဒ် ၂၉၊ ၃၀ နှင့် ၃၁ တို့တွင် အာမခံပစ္စည်း (သို့မဟုတ်) ခိုင်မာသောစာချုပ်စာတမ်း/ ဂရန်တို့ကို အာမခံအဖြစ် မြန်မာ့စီးပွားရေးဘဏ် တစ်ခုခုတွင်ထားရှိရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်များနှင့် စပ်လျဉ်း၍ အပိုဒ် ၉(က) ပါ စည်းကမ်းချက်၊ အပိုဒ် ၂၈ ပါ အာမခံကြေးနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်များညီညွတ်မှုရှိ စေရန်၊ မလိုလားအပ်သောကိစ္စရပ်များရှုပ်ထွေးမှုများ မဖြစ်ပေါ်စေရန်အတွက် လုပ်ငန်းအာမခံကြေးအား ငွေသားဖြင့်သာရယူသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)များတွင် စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောကာလပါရှိသော်လည်း စာချုပ်၏အရေးကြီးသော ဥပဒေရေးရာစာပိုဒ်ဖြစ်သည့် စာချုပ်သက်တမ်းမပါ ရှိသဖြင့် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)များတွင်ပါရှိသောကွက်လပ်များကို စာချုပ်ချုပ်ဆိုသည့်အချိန် တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဈ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ သာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရှုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါ သည်။

၅။ စာချုပ်ချုပ်ဆိုမည့်ပုဂ္ဂိုလ်များသည် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့် ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှု ရှိ မရှိ၊ စာချုပ်ချုပ်ဆိုခွင့် ရှိ မရှိ စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်

၆။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန် အတွက် ဤရုံးသို့ စာချုပ်(မိတ္တူ)(၃)စောင်ပေးပို့ပါ ရန် မေတ္တာရပ်ခံအပ်ပါသည်။

၇။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

16/12/2015

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
(ဒေါက်တာသီတာဦး၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

**အက်မှုဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



Acer/DSSW/Daw Nan Khin Myint Yee (14-12-2015)

**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း**

**အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန(ကျိုက်ထို) နှင့်**

**ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူတို့၏ နှစ်ဦးနှစ်ဖက် အကျိုးတူ**

**ရော်ဘာစိုက်ပျိုးထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စာချုပ်(မူကြမ်း)**

ဤစာချုပ်ကို မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ အမှတ်(၂၇) စက်မှုကုန်ကြမ်းဌာန၊ အထွေထွေမန်နေဂျာရုံးတွင် ၂၀၁၆ ခုနှစ် လ ရက်နေ့၌ ဦးခင်မောင်မြင့်၊ ခေတ္တအထွေထွေမန်နေဂျာ ကိုယ်စားပြုသော အမှတ် (၂၇) စက် မှု ကုန် ကြမ်း ဌာ န၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန( နောင်တွင် **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**ဟု ခေါ်တွင်မည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်ယင်း၏ဆက်ခံသူများ၊ ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်

နှင့်

ဦးဟုန်ဦး၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊ ၁၀/ပမန(နိုင်)၀၈၇၁၇၀၊အုပ်ချုပ်မှုဒါရိုက်တာ ကိုယ်စားပြုသော နတ်ကြီးချောင်းကျေးရွာ(အနောက်)ရပ်ကွက်၊ ကျေးရွာအုပ်ချုပ်ရေးမှူးရုံး(အရှေ့)၊ ပေါင်မြို့နယ် ၊ မွန်ပြည်နယ်တွင် ရုံးခန်းဖွင့်လှစ်ထားသည့် Kaung Hein Zabu Co.,Ltd .(နောင်တွင် **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**ဟုခေါ်တွင် မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ ၊ ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့ သည် တစ်ဖက်စာမျက်နှာပါ သဘောတူညီ ချက်များနှင့်အညီ ရော်ဘာစိုက်ပျိုးထုတ်လုပ်မှုအပေါ် ခွဲဝေ ခံစားရန် သဘောတူချုပ် ဆိုကြပါသည်-

**ရည်ရွယ်ချက်**

၁။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**ပိုင်ဆိုင်သော ရော်ဘာစိုက်ပျိုးဧရိယာများကို **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**က **အစေးလှီးလုပ်ငန်း၊ ထိန်းသိမ်းလုပ်ငန်း ၊ ပြန်စိုက်လုပ်ငန်းများ**တွင် အကျိုးတူပူးပေါင်းဆောင်ရွက်ရန် ရည်ရွယ်၍ ဤစာချုပ် ကို လက်မှတ်ရေးထိုးခြင်းဖြစ်သည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ **"အမှတ်(၂၇)စက်မှုကုန်ကြမ်းဌာန"**သည် အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေဧရိယာများကို တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး **"ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ရသူ"**သည် စာချုပ်ရည်ရွယ်ချက်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ရန် အင်အားခိုင်မာငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသူ၊ လုပ်ကိုင်နိုင်သူဖြစ်ပါသည်။ **စာချုပ်**တွင် လက်မှတ်ရေးထိုးသူနှစ်ဦးနှစ်ဖက်လုံးသည် ဤစာချုပ်တွင်လက်မှတ်ရေးထိုးရန်အခွင့်အာဏာလုပ်ပိုင်ခွင့်နှင့် ပြည့်စုံသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အကျိုးတူပူးပေါင်း၍ စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသောဧရိယာ**

၃။ အကျိုးတူပူးပေါင်း၍ ရော်ဘာစိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသော မြေနှင့်ဧရိယာမှာ ပူးတွဲမြေပုံပါ မွန်ပြည်နယ် ၊ပေါင်မြို့နယ် ၊ပေါင်-ကျုံကရာဘာခြံ ကွင်းအမှတ်-နှမ်းတစိတ်ကွင်း (၈၉၇)၊လက်ပံကွင်း (၉၂၆) ၊ ကျုံကနင်းကွင်း(၉၆၂) ၊ကော့မံဖယ်ကွင်း(၉၆၃) ၊ အကွက်အမှတ်-ကျုံကခြံခွဲ ၊ ပေါင်ခြံခွဲ ၊ ဧရိယာ၁၀၀၉ဧကဖြစ်ပါသည်။

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ် အသက်ဝင်သောနေ့ ၂၀၁၆ ခုနှစ် လ ရက်နေ့မှစ၍ ၂၀၄၁ ခုနှစ် လ ရက်နေ့အထိ ၂၅ နှစ် ဖြစ်သည်။

